# PARTICULARS OF DIRECTORS, MANA(
## (Myan

Name of Company : **Swe Zin Phyo Co.,ltd**

| | The Present Christian name or names of surnames | Nationality, National Registration Card No. | U |
|---|---|---|---|
| 1. | U Lee Yin Swin@Myint Swe | Myanmar<br>1/Wa Ma Na<br>(Aei) 000144 | No(239), Region (<br>Kachin State. |
| 2 | Daw Moe Yin Win | Myanmar<br>13/Ka Kha Na<br>(Naing) 010006 | No(239), Region (<br>Kachin State. |
| 3 | U Ko Ko Zin | Myanmar<br>1/Wa Ma Na<br>(Aei) 000295 | No(239), Region (<br>Kachin State. |
| 4 | Daw Ohmar Zin | Myanmar<br>1/Wa Ma Na<br>(Naing) 086601 | No(239), Region (<br>Kachin State. |

NOTE (1) A Complete list of the Directors or Managers or Managing A
(2) A note of the changes since the last list should be made in th
and by writing against any former Director's name the word '

Dated this 26 10 . 2012

ရုံးတံဆိပ်

Registration Period ထုတ်ကုန် သွင်းကုန်လုပ်ငန်း လုပ်ငန်းရှင် မှတ်ပုံတင်အား သက်
Auth

61

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ဆွေဇင်ဖြိုး ကုမ္ပဏီ လီမိတက်

၏

သင်းဖွဲ့မှတ်တမ်း

နှင့်

သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖ ❖

THE MYANMAR COMPANIES ACT

**PRIVATE COMPANY LIMITED BY SHARES**

**Memorandum Of Association**

*AND*

**Articles Of Association**

*OF*

# SWE ZIN PHYO COMPANY LIMITED.

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ဆွေဇင်ဖြိုး ကုမ္ပဏီ လီမိတက်

၏

သင်းဖွဲ့မှတ်တမ်း

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ကုမ္ပဏီ၏အမည်သည် **ဆွေဇင်ဖြိုး ကုမ္ပဏီ လီမိတက်**
ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည်ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီတည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များ မှာ တစ်ဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် ၁၀၀,၀၀၀,၀၀၀ /-( ကျပ်
ယန်းတစ်ရာ တိတိ ) ဖြစ်၍ ငွေကျပ် ၁၀၀,၀၀၀ /-( ကျပ်
တစ်သိန်း တိတိ ) တန်အစုရှယ်ယာပေါင်း ( ၁,၀၀၀ )
...ပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော
...များဥပဒေ အထွေထွေ ပြဋ္ဌာန်းချက်များ နှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊
မ...နိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

## ရောင်းဝယ်ရေး လုပ်ငန်း ရည်ရွယ်ချက်

၁။ နိုင်ငံတော်အစိုးရက ခွင့်ပြုထားသော အောက်ဖော်ပြပါ ကုန်ပစ္စည်းများနှင့် ထုတ်ကုန်များကို မိမိတစ်ဦးတည်း ဖြစ်စေ၊ မည်သည့်ပြည်တွင်း၊ ပြည်ပပုဂ္ဂိုလ်များနှင့် ဖက်စပ်၍ဖြစ်စေ၊ သွင်းကုန်လုပ်ငန်းရှင်များ ထုတ်ကုန်လုပ်ငန်းရှင်များ၊ လက်လီလက်ကား ရောင်းချသူများ၏ ကူးသန်း ရောင်းဝယ်ရေး လုပ်ငန်းများ ဆိုင်ရာ လုပ်ငန်းများကို လုပ်ကိုင်ရန်။

(၁) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက်ကုန်ပစ္စည်းများ
(၂) သစ်တောထွက်ပစ္စည်းနှင့် ထပ်ဆင့်တိုးတန်ဖိုးမြင့် သစ်အခြေခံ ကုန်ပစ္စည်းများ၊
(၃) တိရစ္ဆာန်ထွက် ကုန်ပစ္စည်းနှင့် တိရစ္ဆာန်အစားအစာ
(၄) ရေထွက်ကုန်ပစ္စည်းများ၊
(၅) ဓါတ်မြေဩဇာနှင့် ပိုးသတ်ဆေးများ၊
(၆) ဓာတုဗေဒနှင့် ဓာတ်ဆေးဆိုးဆေးများ၊
(၇) စက်ရုံသုံးပစ္စည်းများနှင့် ကုန်ကြမ်းပစ္စည်းများ၊
(၈) အိမ်သုံးကုန်ပစ္စည်းများ၊
(၉) လူသုံးကုန်ပစ္စည်းများ၊
(၁၀) ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများနှင့် သုတ်ဆေးများ
(၁၁) လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများ၊
(၁၂) ယာဉ်နှင့်စက်ကိရိယာနှင့် အပိုပစ္စည်းများ၊
(၁၃) ကိရိယာတန်ဆာပလာအမျိုးမျိုး၊
(၁၄) ဆေးနှင့်ဆေးပစ္စည်းများ၊
(၁၅) စားသောက်ကုန်နှင့် အထွေထွေကုန်ပစ္စည်းများ၊
(၁၆) အထည်အလိပ်နှင့် အဝတ်အထည်များ၊
(၁၇) စက္ကူ၊ စာရေးကိရိယာနှင့် ဓာတ်ပုံပစ္စည်းများ၊
(၁၈) ရုံးသုံးပစ္စည်းများနှင့် ပညာရေးအထောက်အကူ ပစ္စည်းများ၊

၂။ ကုမ္ပဏီမှ သင့်တော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိ စေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ်၊ သို့မဟုတ်၊ ငွေကြေး အဖွဲ့အစည်း ထံမှမဆို ငွေချေးယူရန်။

[illegible] ကုမ္ပဏီသည် အောက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုသမ္မတနိုင်ငံတော် အတွင်း၌ ဖြစ်စေ၊ [illegible]သည့် အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ [illegible]မိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို [illegible]ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်အတွင်း၌ အချိန် [illegible]အားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် [illegible]ညီသင့်တော်ခြင်း သို့မဟုတ်၊ ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု [illegible]ထားရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည် အသီးသီးနှင့် ယှဉ်တွဲ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲ လက်မှတ် |
|---|---|---|---|---|
| ၁၊ | ဦး လီးရင်ရှင်(ခ) မြင့်ဆွေ<br>ကုန်သည်<br>အမှတ်(၂၃၉)၊ နယ်မြေ(၇)၊ အေးစေတီရပ်ကွက်၊ မြစ်ကြီးနားမြို့၊ ကချင်ပြည်နယ်။ | ၁/ဝမန(ဧည့်)၀၀၀၁၄၄ | ၂၀ | (signature) |
| ၂၊ | ဒေါ် မိုးရင်ဝင်း<br>ကုန်သည်<br>အမှတ်(၂၃၉)၊ နယ်မြေ(၇)၊ အေးစေတီရပ်ကွက်၊ မြစ်ကြီးနားမြို့၊ ကချင်ပြည်နယ်။ | ၁၃/ကခန(နိုင်)၀၁၀၀၀၆ | ၁၀ | (signature) |
| ၃၊ | ဦး ကိုကိုဇင်<br>ကုန်သည်<br>အမှတ်(၂၃၉)၊ နယ်မြေ(၇)၊ အေးစေတီရပ်ကွက်၊ မြစ်ကြီးနားမြို့၊ ကချင်ပြည်နယ်။ | ၁/ဝမန(ဧည့်)၀၀၀၂၉၅ | ၁၀ | (signature) |
| ၄၊ | ဒေါ် ဥမ္မာဇင်<br>ကုန်သည်<br>အမှတ်(၂၃၉)၊ နယ်မြေ(၇)၊ အေးစေတီရပ်ကွက်၊ မြစ်ကြီးနားမြို့၊ ကချင်ပြည်နယ်။ | ၁/ဝမန(နိုင်)၀၈၆၆၀၁ | ၁၀ | (signature) |

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ
အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ဆွေဇင်ဖြိုး ကုမ္ပဏီ လီမိတက်

၏

သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖

ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင် စေရမည်။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်း များသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

## အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

ဤကုမ္ပဏီသည် အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါ သတ်မှတ်ချက်များသည် အကျိုး သက်ရောက် စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင် အရေအတွက်ကို ငါးဆယ် အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်စုံစုအတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်း မပြုလုပ်ရန် တားမြစ်ထားသည်။

## မ,တည် ရင်းနှီးငွေနှင့် အစုရှယ်ယာ

**ကုမ္ပဏီ၏ သတ်မှတ်မ,တည်ငွေရင်းမှာ ကျပ်မှာ ၁၀၀၀၀၀၀၀၀ /-(ကျပ်**
**သန်းတစ်ရာ တိတိ)ဖြစ်၍ ငွေကျပ် ၁၀၀၀၀၀ /-(ကျပ်**
**တစ်သိန်း တိတိ)တန်အစုရှယ်ယာပေါင်း ၁၀၀၀ ခွဲထားပါသည်။**
**ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များ နှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာ ရှိစေရမည်။**

မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် မမြဲအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း
သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြား ပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို မူလတ်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြား သက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍ သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ များဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ်ပြုပေးရမည် ဖြစ်သည်။

ဒါရိုက်တာများသည် အစုရှင်များက ၄င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများ အခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၄င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွ ဒါရိုက်တာများက သတ်မှတ်ထားသည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရ တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟု ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အ အတွက်သည် ( ၂ ) ဦးထက်မနည်း၊ ( ၁၅ ) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည်-

| | |
|---|---|
| ( ၁ ) ဦး လီးရင်ရှင်(ခ) မြင့်ဆွေ | ( ၂ ) ဒေါ် မိုးရင်ဝင်း |
| ( ၃ ) ဦး ကိုကိုဇင် | ( ၄ ) ဒေါ် ဥမ္မာဇင် |

တို့ဖြစ်ကြပါသည်။

ဒါရိုက်တာများသည် ၄င်းတို့အနက်မှတစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သေ သတ်မှတ်ချက်များ၊ ဥာဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သေ အာဏာများ အားလုံးကို ၄င်းကအသုံးပြုနိုင်သည်။

ဒါရိုက်တာတစ်ဦး ဖြစ်မြောက်ရန်လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး ( ) ကိုပိုင်ဆိုင်ခြင်းဖြစ်၍ ၄င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၅ ပါ ပြဌာန်းချက် များက လိုက်နာရန်တာဝန်ရှိသည်။

အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးပဲ ဒါရိုက်တာ အဖွဲ့သည် ၄င်းတို့၏ ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

ဒါရိုက်တာများသည်၄င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေ သတ်မှတ်ခြင်းတို့ကိုဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့် ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့်ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်တူနေပါက ဥက္ကဋ္ဌသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

ဒါရိုက်တာများ၏အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

ဒါရိုက်တာအားလုံးက လက်မှတ် ရေးထိုးထားသော ရေးသားထားသည့် ဆုံးဖြတ်ချက် တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူ ကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက် ကဲ့သို့ပင် ကိစ္စ အားလုံး အတွက် အကျိုးသက် ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့် တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ(က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲ ဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေငြာသည်။ အာဏာဆိုသည်မှာ -

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော တန်ဖိုးနှင့် စည်းကမ်းများ ၊ အခြေအနေ များ သတ်မှတ်၍ ကုမ္ပဏီက ရယူရန် အာဏာရှိသည့် မည်သည့်ပစ္စည်း ၊ အခွင့်အရေးများ၊ အခွင့်အလမ်းများ မဆို ဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန် အပြင် ကုမ္ပဏီက ပိုင်ဆိုင်ခွင့်ရှိသော မည်သည့်ပစ္စည်း၊ အခွင့်အရေးများ ၊ အခွင့်အလမ်း များကိုမဆို သင့်တော်သော စည်းကမ်းချက်များသတ်မှတ်၍ ရောင်းချခြင်း၊ အငှားချခြင်း ၊ စွန့်လွှတ်ခြင်း သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက် ခြင်းတို့ကို ပြုလုပ်ရန် ။

(၂) သင့်လျော်သော စည်းကမ်းသတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ် အဆိုပါ ချေးငှားသော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန် အတွက်အာမခံများ ထားရှိ ရန် အပြင်၊ အထူးသဖြင့် ဤ ကုမ္ပဏီ၏ ဒီဘင်ချာများ ၊ ဒီဘင်ချာစတော့ခ်များ ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ယခုလက်ရှိ နှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တဒေသ ကို အပေါင်ပြု၍ ထုတ်ဝေရန် ။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာ များ၊ ငွေချေးစာချုပ်များ ၊ သို့မဟုတ် ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များကိုထုတ်ပေးရန်၊ ထို့အပြင် အဆိုပါအစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့်ပေးသွင်းပြီး သော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း ၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့် သော် လည်းကောင်း ၊သဘောတူညီ သကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ဖြစ်စေ ၊ ထိုကဲ့သို့ မဟုတ်ဘဲ ဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ ၊ တာဝန်ယူထားသည့် လုပ်ငန်း များ ပြီးစီးအောင် ဆောင်ရွက်ခြင်း အလို့ငှာ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများ အပါအဝင်ဤကုမ္ပဏီ၏ပစ္စည်းရပ်များအားလုံးသို့မဟုတ်တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော် လည်းကောင်း၊ အပေါင်ပြု၍သော် လည်းကောင်း ၊ သို့မဟုတ် အစုရှယ်ယာများ အတွက် ငွေများတောင်းခံခေါ်ယူ၍သော်လည်းကောင်း၊ ခွင့်ပြုရန် သို့မဟုတ် သင့်လျော် သည့် အတိုင်း ဆောင်ရွက်ရန် ။

(၅) မန်နေဂျာများ ၊ အတွင်းရေးမှူးများ အရာရှိများ ၊ စာရေးများ ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်း များကို အမြဲ တမ်းယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း ၊ ရပ်စဲခြင်း၊ဆိုင်းငံ့ခြင်းများအတွက် လည်းကောင်း ၊အဆိုပါပုဂ္ဂိုလ်တို့၏ တာဝန်များ၊ အာဏာများ ၊ လစာငွေများ ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း ၊ အာမခံပစ္စည်းများ [illegible] လည်းကောင်း [illegible] သလို ဆောင် ရွက်ရန် ၊ ထို့အပြင် [illegible] အတွက် [illegible] ကိစ္စရပ်များ အားလုံးကို ဖြစ်စေ [illegible] ရှက်နိုင်ရေးအတွက် [illegible]

[illegible]

(၇) မည်သည့်အစုရှင် ထံမှမဆို ၄င်းတို့ ၏ အစုရှယ်ယာများ အားလုံးကို ဖြစ်စေ ၊ အချို့အဝက်ကို ဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသော စည်းကမ်းချက်များဖြင့် လက်ခံရန် ။

(၈) ဤ ကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြား အကြောင်းများကြောင့် ဖြစ်သော မည်သည့်ပစ္စည်းကိုမဆို ကုမ္ပဏီ၏ ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့် ပုဂ္ဂိုလ် သို့မဟုတ်ပုဂ္ဂိုလ်များကို မဆို ခန့်ထားရန်နှင့်အဆိုပါ ယုံမှတ်အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ် စာတမ်း များ ချုပ်ဆို ပြုလုပ်ရန် ။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီကပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီပေါ် သို့မဟုတ် ဤကုမ္ပဏီ၏အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆိုဆောင်ရွက်မှုများကို တရားစွဲဆို ၊အရေးယူ ၊ခုခံကာကွယ်ရန် သို့မဟုတ်ခွင့်လွှတ်ရန် ၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ်တောင်းခံသော ကြွေးမြီးများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက်သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန် ။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ်ရရန် ရှိသောငွေတောင်းခံခြင်းများကို ဖြန်ဖြေရေးခုံသမာဓိထံသို့ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေးခုံသမာဓိ၏ ဆုံးဖြတ်ချက် အတိုင်းလိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသော တောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများပြုလုပ်ခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသော နည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ကြွေးမြီးမဆပ်နိုင်ခြင်းကိစ္စများနှင့် ပတ်သက်၍ ဤကုမ္ပဏီ၏ ကိုယ်စားဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ချက်လက်မှတ်များ၊ဝန်ခံကတိစာချုပ်များ ၊ ထပ်ဆင့်လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက်စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့် ရှိသည်ကို စီစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော်လျောက်ပတ်သော နည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင်ငွေများကို အာမခံပစ္စည်းပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံမှုထားရန်နှင့် စီမံခန့်ခွဲထား ရန်၊ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထား သောငွေများကိုပြန်လည် ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန် ။

(၁၅) ဤ ကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေးစိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းများကို သင့်လျော်သည်ဟု ယူဆပါကဆောင်ရွက်ခွင့်ပြုရန် အဆိုပါပေါင်နှံခြင်းဆိုရာ၌ ရောင်းချ နိုင်သည့် အာဏာနှင့် အခြားသော သဘောဟူညီထားသည့် တရားဝင်သဘောတူညီချက်များနှင့် ဥပဒေ ပြဋ္ဌာန်းချက်များ ပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီက ခန့်အပ်ထားသော မည်သည့်အရာရှိ သို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျ ဆောင်ရွက်ခဲ့သောလုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက်ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်းသို့မဟုတ်ကုမ္ပဏီ၏အထွေထွေအမြတ်အစွန်းမှ ခွဲဝေပေးခြင်းများ ပြုလုပ်ရန် နှင့် အဆိုပါကော်မရှင်များ အမြတ်များ ခွဲဝေပေးခြင်းစသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသ အဖြစ် သတ်မှတ်ရန်။

(၁၇) ဤ ကုမ္ပဏီ၏ လုပ်ငန်းများ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ ၊ စည်းကမ်းဥပဒေများကို အခါ အားလျော်စွာ သတ်မှတ်ခြင်း ၊ ပြင်ဆင်ခြင်း ၊ ဖြည့်စွက်ခြင်း များ ဆောင်ရွက်ရန်။။

(၁၈) ဤ ကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ အမည်ဖြင့်ဖြစ်စေ ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ လိုအပ်သည် ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများ ကို ပြုလုပ်ရန် ၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကို လည်းကောင်း ၊ ၎င်းတို့နှင့် စပ်လျဉ်း သော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန် ။

(၁၉) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည်သည့် ပြည်တွင်းပြည်ပပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်းများ၊ ကုမ္ပဏီသို့မဟုတ်ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်း ထံမှ မဆို ငွေချေးယူရန် ။

## အထွေထွေ အစည်းအဝေးကြီးများ

၉။ ကုမ္ပဏီကို ဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့် နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေ သင်းလုံးကျွတ် အစည်းအဝေးကြီးကို ကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေး သည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ် တစ်နှစ်လျှင် အနည်းဆုံး တစ်ကြိမ် (နောက်ဆုံး ကျင်းပသည့် အထွေထွေအစည်း အဝေးကြီးနှင့် တစ်ဆယ့်ငါးလထက် မပိုသည့် အချိန်၌ ) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေး စတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင် အရေ အတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ် ဆောင်ရွက်ခြင်း မပြုရ ၊ ဤတွင် အခြားနည်းသတ်မှတ် ပြဋ္ဌာန်းခြင်း မရှိလျှင်ထုတ်ဝေထားသည့် မ,တည်ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက် မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက် မနည်းသော) အစုရှင်များကိုယ်တိုင် တက်ရောက်လျှင် လုပ်ငန်းကိစ္စ အားလုံး ဆောင်ရွက်ရန် အတွက် အစည်းအဝေး အထမြောက်သည့် ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင် အစုရှင် အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးကည်း သည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက် ဖြစ်စေ ရမည်။

## အမြတ်ဝေစုများ

၁၀။ သင်းလုံးကျွတ် အစည်းအဝေးတွင် ဤကုမ္ပဏီ၏အစုရှင်များအား ခွဲဝေပေးသည့် အမြတ်ဝေစုကို ကြေငြာ ရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန် စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေ ရသေးသည့် အမြတ်ပမာဏမှအပ အမြတ် ဝေစုကို ခွဲဝေမပေးရ ။

## ရုံးဝန်ထမ်းများ

[illegible] လုပ်ငန်းတစ်ခုကို ဖွင့်လှစ်၍ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်းပြည့်မီသူ ပုဂ္ဂိုလ် [illegible] အထွေထွေ မန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများ အား [illegible]ဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ ၊ ခရီးသွားလာစရိတ် နှင့် အခြား အသုံးစရိတ်များကဲ့ [illegible] ပူဇော်ခ များနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်း [illegible]များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြု ရမည်။ အထွေထွေမန်နေဂျာသည် [illegible] ကိုယ်ရောက်စွာ လုပ်ငန်းလည်ပတ်မှု အားလုံး အတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး [illegible] တာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကိုအောက်ဖော်ပြပါသတ်မှတ်ချက်များ နှင့်အညီ ထားသို ထိန်းသိမ်းဆောင်ရွက်သွားရမည် ။

(၁) ကုမ္ပဏီ၏ရငွေ၊ သုံးငွေများ၏ပမာဏနှင့် ၄င်းရငွေ ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်း ကိစ္စများ ။

(၂) ကုမ္ပဏီ ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤ ကုမ္ပဏီ၏ ရရန် ပိုင်ခွင့် နှင့် ပေးရန် တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ် အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံးများ သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာများတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး ၊ ရုံးချိန် အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကိုခန့်အပ်ထားရမည်။ ၄င်းစာရင်းစစ်များ၏တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်း များနှင့် လိုက်လျော ညီထွေ ဖြစ်ရမည်။

## နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကိုစာတိုက်ခ ကြိုတင်ပေးထား၍ ၄င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှ တဆင့်လိပ်မူပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်ပါသည်။

## တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာ ထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေး အပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတပါး၊ ထိုအပြင် အနည်းဆုံး ဒါရိုက်တာ တစ်ဦး ရှေ့မှောက်တွင်မှတပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ် ထားသည့် စာရွက်စာတမ်းကိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

## လျော်ကြေး

၂၃။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၆(ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လောက်ရိုက်ရေး တည်ဆဲဥပဒေ ပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိတစ်ဦးဦးမှာ မိမိတာဝန်ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ [illegible] ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့သည့်စရိတ်များ၊ တောင်းခံငွေများ ၊ဆုံးရှုံးငွေများ၊ [illegible] များ နှင့် ကြွေးမြီးတာဝန်များအတွက် ကုမ္ပဏီထံမှ လျော်ကြေးရထိုက်ခွင့်ရှိစေရမည်။

## ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေ အစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်း နိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ [illegible] ထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ် [illegible]

...တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီ ...သင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ ပြထားသော ...များကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲ လက် မှတ် |
|---|---|---|---|
| ...ရင်ရှင်(ခ) မြင့်ဆွေ<br>ကုန်သည်<br>အမှတ်(၂၃၉)၊ နယ်မြေ(၇)၊ အေးစေတီရပ်ကွက်၊ ...မြို့ ကချင်ပြည်နယ် | ၁/ဝမန(နိုင်)၀၀၀၁၄၄ | ၂၀ | |
| ...မိုးမင်ဝင်း<br>ကုန်သည်<br>အမှတ်(၂၃၉)၊ နယ်မြေ(၇)၊ အေးစေတီရပ်ကွက်၊ ...မြို့ ကချင်ပြည်နယ် | ၁၃/ကစန(နိုင်)၀၁၀၀၀၆ | ၁၀ | |
| ...ကိုကိုမင် <br>ကုန်သည်<br>အမှတ်(၂၃၇)၊ နယ်မြေ(၇)၊ အေးစေတီရပ်ကွက်၊ ...မြို့ ကချင်ပြည်နယ် | ၁/ဝမန(နိုင်)၀၀၀၂၉၅ | ၁၀ | |

...မြို့၊ ၂၀၁၂ ခုနှစ် ၁၀ လ၊ ၂၅ ရက်။

...များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

[illegible]တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီ [illegible]ပေါင်းဖွဲ့စည်းမျိုးအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ ပြထားသော [illegible]ကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် တည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | တိုးမြဲ လက် မှတ် |
|---|---|---|---|
| [illegible]ပွားခင်<br>[illegible]ည<br>[illegible](၂၃၉)၊ နယ်မြေ(၇)၊ အေးစေတီရပ်ကွက်၊ [illegible]နားမြို့၊ ကချင်ပြည်နယ်။ | ၁/ဝမန(နိုင်)ဝ၈၆၆ဝ၁ | ၁၀ | (signature) |

[illegible]။ နေ့စွဲ ၊ ၂၀၁၂ ခုနှစ် ၁၀ လ၊ ၂၅ ရက်။

[illegible]ပါရှိသူများသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

THE MYANAMR COMPANY ACT

PRIVATE COMPANY LIMITED BY SHARES

**Memorandum Of Association**

OF

# SWE ZIN PHYO COMPANY LIMITED.

❖ ❖ ❖ ❖ ❖ ❖ ❖

I. The name of the Company is **SWE ZIN PHYO COMPANY LIMITED.**

II. The registered office of the Company will be situated in the Union of Myanmar.

III. The objects for which the Company is established are as on the next page.

IV. The liability of the members is limited.

V. The authorised capital of the Company is Ks- **100000000** /-(Kyats **One Hundred Million** Only ) divided into (**1000** ) shares of Ks. **100000** /-(Kyats **One Hundred Thousand** Only ) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

## Objective of Trading

To carry on the trading business of importers, exporters, wholesalers and retailers of the following commodities and products permitted by the Goverment, solely on its own or in join-venture with any foreign or local patners.

1. Agricultural and farm produces.
2. Forest products and value-added wood-based products.
3. Animal by-products and Animal feed.
4. Marine products.
5. Fertilizer and insecticides.
6. Chemicals and dyes.
7. Factory utencils and raw material.
8. Household goods.
9. Personal goods.
10. Construction materials and paints.
11. Electrical and electronic products.
12. Vehicles, Machinery and spares.
13. Tools and implement.
14. Medicines and medical equipment.
15. Foodstuff and general merchandise.
16. Textile and garment.
17. Paper, stationery and photographic stores.
18. Office equipment and educational supplies.

to borrow money for the benefit of the Company's business from any person, firm, company, bank or financial organization in the manners that the Company shall think fit.

PROVISO: Provided that the Company shall not exercise any of the above objects whether in the Union of Myanmar or elsewhere save in so far as it may be entitled so as to do in accordance with the Laws, Orders and Notifications in force from time and then only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Union of Myanmar for the time being in force.

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the Capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of Shares taken | Signatures |
|---|---|---|---|---|
| 1 | **U Lee Yin Swin @ Myint Swe**<br>Merchant<br>No(239), Region (7) , Aye Say Te Quarter, Myitkyinar Township,Kachin | 1/WAMANA(AEI)000144 | 20 | |
| 2 | **Daw Moe Yin Win**<br>Merchant<br>No(239), Region (7) , Aye Say Te Quarter, Myitkyinar Township,Kachin | 13/KAKHANA(NAING)010006 | 10 | |
| 3 | **U Ko Ko Zin**<br>Merchant<br>No(239), Region (7) , Aye Say Te Quarter, Myitkyinar Township,Kachin | 1/WAMANA(AEI)000295 | 10 | |
| 4 | **Daw Ohmar Zin**<br>Merchant<br>No(239), Region (7) , Aye Say Te Quarter, Myitkyinar Township,Kachin | 1/WAMANA(NAING)086601 | 10 | |

NayPyiTaw Dated 25 the 10 day of 2012

It is hereby certified that the persons mentioned above

put their signatures in my presence.

THE MYANAMR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

Articles Of Association

OF

# SWE ZIN PHYO COMPANY LIMITED.

❖ ❖ ❖ ❖ ❖ ❖ ❖

The regulations contained in Table 'A' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The compulsory regulations stipulated in Section 17 (2) of the Myanmar Companies Act shall always be deemed to apply to the Company.

## PRIVATE COMPANY

The Company is to be a Private Company and accordingly following provisions shall have effect:-

*(a) The number of members of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.*

*(b) Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

## CAPITAL AND SHARES

The Authorised Capital of the Company is Ks. **100,000,000** /-(Kyats **One Hundred Million** only ) divided into ( **1,000** ) shares of Ks **100,000** /-(Kyats **One Hundred Thousand** only ) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by Board of Directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representive of a deceased member shall be recognized by the Directors.

The Directors may, from time to time make call upon the members in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made upon him to the persons, and at the times and places appointed by the Directors. A call may be made payable by instalments or may be revoked or postponed as the Directors may determine.

## DIRECTORS

Unless otherwise determined by a General Meeting the number of Directors shall not be less than ( 2 ) and not more than ( 15 ).

The First Directors shall be:-

( 1 ) U Lee Yin Swin @ Myint Swe

( 2 ) Daw Moe Yin Win

( 3 ) U Ko Ko Zin

( 4 ) Daw Ohmar Zin

The Directors may from time to time appoint one of their body to the office of the Managing Director for such terms and at such remuneration as they think fit and he shall have all the powers delegated to him by the Board of Directors from time to time.

The qualification of Director shall be the holding of at least ( - ) shares in the Company in his or her own name and it shall be his duty to comply with the provision of Section (85) of the Myanmar Companies Act.

The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reason. -

## PROCEEDINGS OF DIRECTORS

The Director may meet together for the despatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business. Unless otherwise determined, two shall form a quorum. If any question arising at any meeting the Managing Director's decision shall be final. When any matter is put to a vote and if there shall be an equality of votes, the Chairman shall have a second or casting vote.

Any Director may at any time summon a meeting of Directors.

A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting of the Directors, duly called, held and constituted.

## POWERS AND DUTIES OF DIRECTORS

14. Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power;-

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit: also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debenture stocks of the Company charged upon all or any part of the property of the Company (both present and future) including its uncalled capital for the time being,

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds , debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up there on as may be agreed upon ; and any such bonds, debentures or other securities may be either specifically charged up on all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfillment of any contract or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and, to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint a Director as Managing Director, General Manager, Secretary or Departmental Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute , conduct , defend of abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Company.

(12) To act on behalf of the Company in all matters relating to bankruptcy. and insolvency.

(13) To determine who shall be entitled to sign bills of exchange, cheques, promissory notes, receipts, endorsements, releases contracts and documents for or on behalf of the Company.

(14) To invest, place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof , upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favour any Director or other person who may incur or be about to incur any personal liability for the bebefitof the Company, such mortgages of the Company's property (present and future) as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make, vary and repeal bye- laws for the regulation of the business of the Company, the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts , deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or financial organization of local and abroad in the manner that the Directors shall think fit .

15. A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time (not being more than fifteen months after the holding of the last preceding general meeting ) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital (not less than two members ) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

16. The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors .No dividends shall be paid otherwise than out of the profits of the year or any other undistributed profits.

## OFFICE STAFF

17. The Company shall maintain an office establishment and appoint a qualified person as General Manager and other qualified persons as office staffs . The remunerations and allowances such as salaries , travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting .The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

18. The Directors shall cause to be kept proper books of account with respect to:-

*(1) all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place:*

*(2) all sales and purchases of goods by the Company ;*

*(3) all assets and liabilities of the Company.*

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

21. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

22. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

23. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges. losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING - UP

24. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Articles of Association, and we respectively agree to take the number of shares in the Capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of Shares taken | Signatures |
|---|---|---|---|---|
| 1 | U Lee Yin Swin @ Myint Swe<br>Merchant<br>No(239), Region (7) , Aye Say Te Quarter, Myitkyinar Township,Kachin | 1/WAMANA(AEI)000144 | 20 | |
| 2 | Daw Moe Yin Win<br>Merchant<br>No(239), Region (7) , Aye Say Te Quarter, Myitkyinar Township,Kachin | 13/KAKHANA(NAING)010006 | 10 | |
| 3 | U Ko Ko Zin<br>Merchant<br>No(239), Region (7) , Aye Say Te Quarter, Myitkyinar Township,Kachin | 1/WAMANA(AEI)000295 | 10 | |
| 4 | Daw Ohmar Zin<br>Merchant<br>No(239), Region (7) , Aye Say Te Quarter, Myitkyinar Township,Kachin | 1/WAMANA(NAING)086601 | 10 | |

ayPyiTaw Dated 25 the 10 day of 2012

is hereby certified that the persons mentioned above
ut their signatures in my presence.